






# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၀၆ /၂၀၁၇ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးဝင်းနိုင်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်(၄၀)၊ တတိယထပ်၊ ပုသိမ်လမ်း၊ ကျွန်းတောအလယ်ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ မာလာဖူး ကျေးရွာအုပ်စု၊ မာလာဖူးအပြင်ကွင်း၊ ကွင်းအမှတ်(OSS-၂၅) ရှိ မြေဧရိယာ ၅.၆၄ ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၉၁၆၀.၈၈ သန်း(US$ ၀.၁၇ သန်း အပါအဝင်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း** ၅၀ နှစ်

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited)

14.7.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၆၆ /၂၀၁၇

၂၀၁၇ ခုနှစ် ဇူလိုင် လ ၁၄ ရက်

၁။ အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) မှ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာနပိုင် မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ မာလာဖူးကျေးရွာအုပ်စု၊ မာလာဖူးအပြင်ကွင်း၊ ကွင်းအမှတ်(OSS-၂၅) ရှိ မြေဧရိယာ ၅.၆၄ ဧက တွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၇ ခုနှစ် ဇွန် လ ၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၆)၊ ပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ အပ်နှင်းထား သော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက် (Asia Rising Star Travels & Tours Company Limited) အား B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၀၆/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည် -

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိသည့် နေ့မှစ၍ ၅၀(ငါးဆယ်) နှစ် ဆောင်ရွက်ခွင့်ပြုသည်။

(ခ) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက် (Asia Rising Star Travels & Tours Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၂) အရ မြေအသုံးပြုခွင့်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊

၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ဂ) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) သည် ဤခွင့်ပြုမိန့် အရ **ဝန်ဆောင်မှုရည်မှန်းချက်များကို အကောင်းဆုံး** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဃ) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲ မှုအစီအစဉ် (Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် အညီ ဆောင်ရွက်ရမည်။

(စ) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) သည် ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနနှင့် ချုပ်ဆိုသည့် ကျိုက်ထို ဟိုတယ် ငှားရမ်းခြင်းဆိုင်ရာ နှစ်ဖက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့် အညီ ဆောင်ရွက်ရမည်။

(ဆ) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်း သက်တမ်းကာလ အတွင်း အခြားပုဂ္ဂိုလ် တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဓ) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလ အတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များ ပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ်(သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဈ) အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီ လီမိတက်(Asia Rising Star Travels & Tours Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရ ဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅)စုံအား ကော်မရှင်သို့ပေးပို့ရမည်။

14.7.17

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက- ၄/မ-၁၅၁၈/၂၀၁၇(၅၂၆ ခ)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇူလိုင် လ ၁၄ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ကန့်သတ်

၄

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ အာရှမြင့်မားကြယ်ပွင့် ခရီးသွားလာရေး ကုမ္ပဏီလီမိတက် (Asia Rising Star Travels & Tours Company Limited)

ကန့်သတ်